**အကြောင်းအရာ။** **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. (ထာဝရနဒီ ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေး စင်တာ (မန္တလေး) ကုမ္ပဏီလီမိတက်) မှ ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေး စင်တာလုပ်ငန်း နှင့်စပ်လျဉ်းသည့် အဓိကအချက်များ**

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. (ထာဝရနဒီ ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာ (မန္တလေး) ကုမ္ပဏီလီမိတက်)<br>- ဦးကျော်လွင်ဦး | | |
| ၂။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု | | |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာလုပ်ငန်း | | |
| ၄။ | လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း | - မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပုလိပ်ဘူတာအနီးရှိ မြေ ၁၄.၀၅ ဧက | | |
| | မြေပိုင်ရှင် | - မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | | |
| | မြေ/ အဆောက်အအုံ ငှားရမ်းခ | - ၁ ဧက ကျပ် တစ်ဆယ့်နှစ်သိန်း (၁,၂၀၀,၀၀၀)<br>- ၁၄.၀၅ ဧက ကျပ် တစ်ရာခြောက်ဆယ့်ရှစ်သိန်းခြောက်သောင်း (၁၆,၈၆၀,၀၀၀) | | |
| | မြေ/ အဆောက်အအုံ ငှားရမ်း/အသုံးပြုသည့် သက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) | | |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | **- ၁၀,၉၇၆.၆၄ ကျပ်သန်း** | | |
| | | မြန်မာ (ကျပ်သန်း) | နိုင်ငံခြား (US$) | စုစုပေါင်း (ကျပ်သန်း) |
| | ငွေပမာဏ | ၅၄၄.၀၆ | - | ၅၄၄.၀၆ |
| | စက်ပစ္စည်း | - | ၂.၄၀ | ၃,၁၂၂.၅၀ |
| | မြေ/အဆောက်အအုံ ငှားရမ်းခ | ၄၈၂.၆၅ | - | ၄၈၂.၆၅ |
| | အဆောက်အအုံ | ၁,၂၇၉.၄၆ | - | ၁,၂၇၉.၄၆ |
| | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ၄၆.၉၉ | - | ၄၆.၉၉ |
| | အခြား | ၅,၅၀၀.၉၈ | - | ၅,၅၀၀.၉၈ |
| | **စုစုပေါင်း** | **၇,၈၅၄.၁၄** | **၂.၄၀** | **၁၀,၉၇၆.၆၄** |

| | | |
|---|---|---|
| ၆။ | တည်ဆောက်ရေးကာလ | - ၁၈ လ |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၅၀ နှစ် |
| ၈ | ဝန်ဆောင်မှုအမျိုးအစား | **စဉ်** **အမျိုးအမည်** **ယူနစ်** **ဈေးနှုန်း (US$)**<br>(က) **ကုန်သေတ္တာကုန်းပတ် ဖြတ်ကျော်ခ (Rail Way)**<br>ကုန်ပါ TEUs ၅၀<br>အခွံ TEUs ၃၀<br>(ခ) **ကုန်သေတ္တာ အတင်/ အချခ**<br>ကုန်ပါ TEUs ၅<br>အခွံ TEUs ၁၀<br>(ဂ) **ကုန်သေတ္တာထားသိုခ**<br>ကုန်သေတ္တာထားသိုခ (ကုန်ပါ) TEUs ၄<br>ကုန်သေတ္တာထားသိုခ (အခွံ) TEUs ၂<br>ပို့ကုန်/သွင်းကုန်ပစ္စည်းထိန်းသိမ်းထားသိုရာနေရာခ/ဂိုထောင်ငှားခ TEUs ၀.၂<br>(ဃ) **အအေးခန်းကုန်သေတ္တာထားသိုခ** TEUs ၁၆<br>(င) **ကုန်သေတ္တာသန့်ရှင်းခ**<br>ပုံမှန်သန့်ရှင်းခ TEUs ၁၂<br>ဓါတုဆေးရည်နှင့် သန့်ရှင်းခ TEUs ၁၅<br>အထူးသန့်ရှင်းခ TEUs ၁၉<br>(စ) **ကုန်တင်ဝန်ချီစက် အသုံးပြုခ**<br>၃ တန် HOUR ၈<br>၅ တန် HOUR ၁၂ |
| ၉။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br>ပြည်ပ | - ၆၂ ဦး<br>၆၂ ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၂၆၀,၀၀၀၊ အမြင့်ဆုံးလစာမှာ ကျပ် ၆,၅၀၀.၀၀၀ ဖြစ်ပါသည်။)<br>- မရှိပါ။ |
| ၁၀။ | ငွေကြေးအထောက်အထား | ဦးကျော်လွင်ဦးနှင့် ဦးကောင်းထက်အောင် အမည်ဖြင့် KBZ Bank၌ ၂၀-၁၂-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၁၇၆,၁၆၃,၆၉၇.၆၇ ရှိကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ပထမနှစ်) | - မဟာဓာတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး ဓာတ်အား ပြတ်တောက်မှု ရှိပါက ကိုယ်ပိုင်မီးစက်ဖြင့် သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၂။ | CSR အစီအစဉ် | - အမြတ်ငွေ၏ ၂ ရာခိုင်နှုန်း |
| ၁၃။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုအစီအစဉ် | - ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်မည်ဖြစ်ပါသည်။ |
| ၁၄။ | မီးဘေးကာကွယ်ရေးစီမံချက် | - မီးဘေးနှင့် သဘာဝဘေးအန္တရာယ် ကြိုတင်တားဆီးကာကွယ်ရေး စီမံချက်များရေးဆွဲမည်ဖြစ်ပါသည်။ |
| ၁၅။ | အခြားတင်ပြချက်များ | (က) အဆိုပြုချက်နှင့်အတူ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့်Ever Flow River Logistics &Distribution Center (Mandalay) Co., Ltd. တို့နှင့် ချုပ်ဆိုထားသည့် BOT စာချုပ်၊ BOT ပြင်ဆင်ချက်စာချုပ်၊မြေငှားရမ်းခြင်းစာချုပ်၊ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ MOA နှင့် AOA တို့အား တင်ပြထားပါသည်။ |
| ၁၆။ | **စိစစ်တင်ပြချက်** | (က) မြေငှားစာချုပ်အရ နှစ်စဉ်မြေငှားရမ်းခအဖြစ် ၁ ဧက အတွက် ကျပ် တစ်ဆယ့်နှစ်သိန်း (၁,၂၀၀,၀၀၀)၊ ၁၄.၀၅ ဧက အတွက် ကျပ် တစ်ရာခြောက်ဆယ့်ရှစ်သိန်းခြောက်သောင်း (၁၆,၈၆၀,၀၀၀) ပေးသွင်းရမည် ဖြစ်ပါသည်။<br>(ခ) မြေအသုံးချမှုပရီမီယံကြေးအဖြစ် ကျပ် လေးထောင့်ရှစ်ရာနှစ်ဆယ့်ခြောက်သိန်း ငါးသောင်းနှစ်ထောင့် ကိုးကျပ် (၄၈၂,၆၅၂,၀၀၉)၏ ၄၁.၄%ဖြစ်သော ကျပ်သိန်း နှစ်ထောင် (၂၀၀,၀၀၀,၀၀၀) အား ၂၁-၈-၂၀၁၅ ရက်စွဲဖြင့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ပေးသွင်းပြီးဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာနှင့် စပ်လျဉ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ၏ ၁၈-၁၂-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စီးပွားရေးရာကော်မတီ/အစိုးရအဖွဲ့(၁၃၃/၂၀၁၇)ဖြင့် "သက်ဆိုင်ရာဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက်များအား ညှိနှိုင်းဆောင်ရွက်သွားရန်"မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ အကြောင်းကြားခဲ့ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး |

| | | |
|---|---|---|
| | | ဝန်ကြီးဌာန၊ မြန်မာ့သစ်လုပ်ငန်းမှလည်း ၁၄-၁၂-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၃၃၀၀/စရ (ဂ) ၅၄ ဖြင့် "ပလိပ်သစ်ဆိပ်မြေအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ လက်ခံမည့်အဖွဲ့အား ဖွဲ့စည်းပေးရန်"အကြောင်းကြားခဲ့ကြောင်း တင်ပြထားပါသည်။<br>(ဃ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေသစ်အရ ဦးစားပေးဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများစာရင်းနှင့် အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည့်လုပ်ငန်းများတွင် ပါဝင်ပါသည်။<br>(င) အဆိုပါလုပ်ငန်းသည် အမိန့်ကြော်ငြာအမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ဇုန် (၃) ဖွံ့ဖြိုးမှုရှိသော ဒေသများစာရင်းတွင် ပါဝင်ပါသည်။<br>(စ) အမေရိကန်ဒေါ်လာ ၂.၄၀ သန်း တန်ဖိုးရှိလုပ်ငန်းသုံးပစ္စည်းများအား ပြည်ပမှ တင်သွင်းဆောင်ရွက်မည် ဖြစ်ပါသည်။ |

ကန့်သတ်

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက- ၅(အ) / ခ-၀၁၀/၂၀၁၈( ၀၁၀)

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီ လ ၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. (ထာဝရနဒီထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာ (မန္တလေး) ကုမ္ပဏီလီမိတက်) မှ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် BOT စနစ်ဖြင့် ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ တစ်ဆင့် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. တို့ BOT စနစ်ဖြင့် ပလိပ်မြို့၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၁၄.၀၅ ဧက တွင် ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ မှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. တို့ ချုပ်ဆိုထားသည့် BOT စာချုပ်၊ မြေငှားစာချုပ်၊ မန္တလေးတိုင်းဒေသကြီး ဥပဒေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ ပြင်ဆင်ချုပ်ဆိုထားသည့် BOT စာချုပ်နှင့် မြေငှားစာချုပ်၊ ကုမ္ပဏီမှတ်ပုံတင် ကဒ်နှင့် MOA၊ AOA တို့ကို တင်ပြထားပါသည်။

၃။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. တို့ ချုပ်ဆိုထားသည့် နှစ်ဦးသဘောတူ BOT စာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) နှစ်စဉ် မြေငှားရမ်းခနှုန်းထားမှာ ၁ ဧကလျှင် ငွေကျပ် ၁၂ သိန်းနှုန်းဖြင့် မြေ ၁၄.၀၅ ဧကအတွက် ကျပ် ၁၆၈.၆၆ သန်း ပေးသွင်းရမည်ဖြစ်ကြောင်း။

(ခ) မြေအသုံးချခ ပရီမီယံကြေးအဖြစ် ကျပ်သိန်းပေါင်း ၄၈၂,၆၅၂,၀၀၉ အနက် ၄၁.၄ % ဖြစ်သော ကျပ်သိန်းပေါင်း ၂,၀၀၀.၀၀ ကို ၂၀၁၅ ခုနှစ် ဩဂုတ်လ ၂၁ ရက်နေ့တွင် ပေးသွင်းပြီးဖြစ်ကြောင်း။

၄။ အဆိုပြုလုပ်ငန်း၏ သက်တမ်းကာလမှာ ကနဦး နှစ် ၅၀ ဖြစ်ပြီး ၁၀ နှစ် နှစ်ကြိမ် သက်တမ်းတိုးမြှင့်ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၈ လ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၁၀,၉၇၆.၆၄ သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| | မြန်မာ ကျပ်(သန်း) | နိုင်ငံခြား US$(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေပမာဏ | ၅၄၄.၀၆ | - | ၅၄၄.၀၆ |
| စက်ပစ္စည်း | - | ၂.၄၀ | ၃,၁၂၂.၅၀ |
| မြေအဆောက်အဦ ငှားရမ်းခ | ၄၈၂.၆၅ | - | ၄၈၂.၆၅ |
| အဆောက်အဦ | ၁,၂၇၉.၄၆ | - | ၁,၂၇၉.၄၆ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၄၆.၉၉ | - | ၄၆.၉၉ |
| အခြား | ၅,၅၀၀.၉၈ | - | ၅,၅၀၀.၉၈ |
| | **၇,၈၅၄.၁၄** | **၂.၄၀** | **၁၀,၉၇၆.၆၄** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၆၂ ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ကျပ် ၂၆၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၆,၅၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပထမနှစ်တွင် ဝန်ဆောင်မှုပေးမည့် အမျိုးအမည်၊ ယူနစ်နှင့်ဝန်ဆောင်ခနှုန်း (US$) တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ယူနစ် | ဈေးနှုန်း(US$) |
|---|---|---|---|
| (က) | **ကုန်သေတ္တာကုန်းပတ် ဖြတ်ကျော်ခ (Rail Way)** | | |
| | ကုန်ပါ | TEUs | ၅၀ |
| | အခွံ | TEUs | ၃၀ |
| (ခ) | **ကုန်သေတ္တာ အတင်/ အချခ** | | |
| | ကုန်ပါ | TEUs | ၅ |
| | အခွံ | TEUs | ၁၀ |
| (ဂ) | **ကုန်သေတ္တာထားသိုခ** | | |
| | ကုန်သေတ္တာလွင်ပြင်ထားသိုခ (ကုန်ပါ) | TEUs | ၄ |
| | ကုန်သေတ္တာလွင်ပြင်ထားသိုခ (အခွံ) | TEUs | ၂ |
| | ပို့ကုန်/သွင်းကုန်ပစ္စည်းထိန်းသိမ်းထားသိုရာနေရာခ/ဂိုထောင်ငှားခ | TEUs | ၀.၂ |
| (ဃ) | **အအေးခန်းကုန်သေတ္တာထားသိုခ** | TEUs | ၁၆ |
| (င) | **ကုန်သေတ္တာသန့်ရှင်းခ** | | |
| | ပုံမှန်သန့်ရှင်းခ | TEUs | ၁၂ |
| | ဓါတုဆေးရည်နှင့်သန့်ရှင်းခ | TEUs | ၁၅ |
| | အထူးသန့်ရှင်းခ | TEUs | ၁၉ |
| (စ) | **ကုန်တင်ဝန်ချီစက်အသုံးပြုခ** | | |
| | ၃ တန် | HOUR | ၈ |
| | ၅ တန် | HOUR | ၁၂ |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-က)**

ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာလုပ်ငန်းအတွက် ကုန်တင်ဂိုဒေါင်၊ ရထားလမ်းဆိုဒ်ဒင်ဆောက်လုပ်ခြင်းများကို မြန်မာ့မီးရထားမှ ဆောင်ရွက်ခွင့်ရမည်ဆိုပါကညှိနှိုင်းဆောင်ရွက်နိုင်ပါကြောင်း၊ ကုန်များသယ်ပို့ဆောင်နိုင်စွမ်းရှိသည်ဆိုပါက သယ်ယူပေးမည်ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)** အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment –EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် ဦးကျော်လွင်ဦးနှင့် ဦးကောင်းထက်အောင် အမည်ဖြင့် KBZ Bank ၌ ၂၀-၁၂-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၁၇၆,၁၆၃,၆၉၇.၆၇ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းအား ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၂/၂၀၁၇ ) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်အတွက် အကျုံးဝင်သည့်ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ဇုန် (၃) ဖွံ့ဖြိုးမှုရှိသော ဒေသများစာရင်းတွင် ပါဝင်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေသစ်အရဦးစားပေးဆောင်ရွက်မည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများစာရင်းနှင့် အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏အတည်ပြုချက်ဖြင့်ဆောင်ရွက်ရမည့်လုပ်ငန်းများတွင် ပါဝင်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာနှင့် စပ်လျဉ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ၏ ၁၈-၁၂-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စီးပွားရေးရာကော်မတီ/အစိုးရအဖွဲ့(၁၃၃/၂၀၁၇)ဖြင့် "သက်ဆိုင်ရာဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက်များအားညှိနှိုင်းဆောင်ရွက်သွားရန်"မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ အကြောင်းကြားခဲ့ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ မြန်မာ့သစ်လုပ်ငန်းမှလည်း ၁၄-၁၂-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၃၃၀၀/စရ (ဂ) ၅၄ ဖြင့် "ပလိပ်သစ်ဆိပ်မြေအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ လက်ခံမည့်အဖွဲ့အား ဖွဲ့စည်းပေးရန်" အကြောင်းကြားခဲ့ကြောင်း တင်ပြထားပါသည်။

(ဃ) အမေရိကန်ဒေါ်လာ ၂.၄၀ သန်း တန်ဖိုးရှိလုပ်ငန်းသုံးပစ္စည်းများအား ပြည်ပမှတင်သွင်းဆောင်ရွက်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. (ထာဝရနဒီထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာ (မန္တလေး) ကုမ္ပဏီလီမိတက်) မှ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် BOT စနစ်ဖြင့် ထောက်ပံ့ပို့ဆောင်ရေးနှင့်ဖြန့်ချိရေးစင်တာလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ- က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

MPI-4495
14.12.17

စာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၇( ၄၄၅၃ )
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ✓

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ခုနှစ်၊ နိုဝင်ဘာလ(၂၈)ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/၀၁၀/၂၀၁၇(၅၃၅)

(၂) ယခင်ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ(၃၀)ရက်စွဲပါ စာအမှတ်၊ ၁/၉၃/၂၀၁၄(Fax:၂၅၆၆)

(၃) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ (၂၈)ရက်စွဲပါစာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၆(၂၅၃၈)

၁။ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဥ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ မြေဧရိယာ (၁၄.၀၅)ဧကကို BOT စနစ်ဖြင့်ငှားရမ်း၍ ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Ever Flow River Logistics & Distribution Center(Mandalay) Co.,Ltd မှ ကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် သဘောထား မှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်း အကြောင်းကြားလာပါသည်။

၂။ အဆိုပါ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဥ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ မြေဧရိယာ(၁၄.၀၅)ဧကတွင် Ever Flow River Logistics & Distribution Center(Mandalay) Co.,Ltd ယခင် Mandalay Dry Port Company Limited မှ Dry Port ကုန်းတွင်းကွန်တိန်နာစခန်း တည်ဆောက်ရန်ကိစ္စနှင့်ပတ်သက်၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်တို့မှ သဘောထားတောင်းခံလာခြင်းအပေါ် ဤဝန်ကြီးဌာနအနေဖြင့် ရည်ညွှန်း(၂)နှင့် (၃) ပါစာများဖြင့် သဘောထားပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၃။ ယခုအခါ Ever Flow River Logistics & Distribution Center(Mandalay) Co.,Ltdမှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဥ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ မြေဧရိယာ (၁၄.၀၅)ဧကကို BOT စနစ်ဖြင့်ငှားရမ်း၍ ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး

D:\Section (2) 2017\2_61(MIC)_2017\2_61(MIC)_2017.doc

13/12/2017

(စ) Ever Flow River Logistics & Distribution Center(Mandalay) Co.,Ltd (ယခင် Mandalay Dry Port Company Limited )သည် လုပ်ထုံးလုပ်နည်းများနှင့်အညီ Open Tender အဖြစ် ဖိတ်ခေါ်ခဲ့သော တင်ဒါလုပ်ငန်းစဉ်များတွင် ဝင်ရောက်ယှဉ်ပြိုင်ခဲ့ခြင်းမရှိသည့်အပြင် ၎င်းကုမ္ပဏီအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် မန္တလေးတိုင်းဒေသကြီးအတွင်း တစ်နေရာတည်း၌ သီးခြား Dry Port စီမံကိန်း နောက်ထပ်တစ်ခု ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက Over Investment (or) Conflict of Interest မဖြစ်ပေါ်စေရေးကို နိုင်ငံတော်မှ Focal Department၊ ကျွမ်းကျင်သူများဖြင့် ဆောင်ရွက်မည့်စီမံကိန်းအပေါ် အခြေခံထိန်းသိမ်းသင့်ပါသည်။

(ဆ) နောင်တွင်လည်း ပြည်တွင်း/နိုင်ငံတကာ ပုဂ္ဂလိကကုမ္ပဏီ၊ အဖွဲ့အစည်းနှင့် လုပ်ငန်းရှင်များက အစိုးရဌာနများနှင့် အကျိုးတူပူးပေါင်း၍ လုပ်ငန်းစီမံကိန်းများ လုပ်ကိုင်ဆောင်ရွက်ရန် ယုံကြည်မှုများလျော့နည်းသွားစေနိုင်သည့် အခက်အခဲများ ရင်ဆိုင်ကြုံတွေ့ရနိုင်ပါသည်။ ဝန်ကြီးဌာနက ကြီးကြပ်အကောင်အထည်ဖော်ဆောင်ရွက်ခဲ့သော ကုန်းတွင်းဆိပ် တည်ဆောက်ရေးတင်ဒါစီမံကိန်းကို များစွာထိခိုက်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ အဆိုပြုလွှာတင်ပြသည့် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ ပလိပ်ကျေးရွာအုပ်စုရှိ မြေဧရိယာ (၁၄.၀၅)ဧကကို BOT စနစ်ဖြင့်ငှားရမ်း၍ ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ကိစ္စနှင့်ပတ်သက်၍ ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေး စင်တာအတွက် ၎င်းတို့ကုမ္ပဏီအနေဖြင့် ကုန်တင်ဂိုဒေါင်၊ ဆိုဒ်ဒင်ဆောက်လုပ်ခြင်းများကို ဖောက်သည်ရရှိပါက မြန်မာ့မီးရထားနှင့် ညှိနှိုင်းဆောင်ရွက်နိုင်ပါကြောင်း၊ ကုန်များသယ်ယူပို့ဆောင်နိုင်စွမ်းရှိသည်ဆိုပါက သယ်ယူပေးမည်ဖြစ်ပါကြောင်းနှင့် ကုန်းတွင်းဆိပ်လုပ်ငန်းစီမံကိန်းဖြစ်ပါက ကုန်းတွင်းဆိပ်(Dry Port)စီမံကိန်း နောက်ထပ်တစ်ခု ဆောင်ရွက်ခွင့်ပြုပါက Over Investment (or) Conflict of Interest မဖြစ်ပေါ်စေရေးကို နိုင်ငံတော်မှ Focal Department၊ ကျွမ်းကျင်သူများဖြင့် ဆောင်ရွက်မည့်စီမံကိန်းအပေါ် အခြေခံထိန်းသိမ်းသင့်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပူးတွဲ ရည်ညွှန်းစာ (၂)စောင်

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့်-အမြဲတမ်းအတွင်းဝန်

မိတ္တူ

မြန်မာ့မီးရထား
ရုံးလက်ခံ
မျှောစာတွဲ

မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားထပ်မံပြန်ကြားအပ်ပါသည်-

(က) Ever Flow River Logistics & Distribution Center(Mandalay) Co.,Ltd သည် Mandalay Dry Port Company Limited ကို အမည်ပြောင်းလဲဆောင်ရွက်ခြင်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ခ) လုပ်ငန်းဆောင်ရွက်မည့်မြေဧရိယာ(၁၄.၇၅)ဧကမှာ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနပိုင်မြေဖြစ်၍ မြေသုံးစွဲခြင်းအတွက် သီးခြားသဘောထားမှတ်ချက်ပြုရန်မရှိပါ။

(ဂ) ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာအတွက် ၎င်းတို့ကုမ္ပဏီအနေဖြင့် ကုန်တင်ဂိုဒေါင်၊ ရထားလမ်းဆိုဒ်ဒင်ဆောက်လုပ်ခြင်းများကို မြန်မာ့မီးရထားမှ ဆောင်ရွက်ခွင့်ရမည်ဆိုပါက ညှိနှိုင်းဆောင်ရွက်နိုင်ပါ သည်။ ကုန်များသယ်ယူပို့ဆောင်နိုင်စွမ်းရှိသည်ဆိုပါက သယ်ယူပေးမည်ဖြစ်ပါသည်။

(ဃ) BOT လုပ်ငန်းအနေဖြင့် မည်သည့်တည်ဆောက်ရေးလုပ်ငန်းကို ဆောင်ရွက်မည်၊ မည်သို့ဆောင်ရွက်မည်၊ မည်သည့်ကာလတွင် လွှဲပြောင်းမည်၊ မိမိဝန်ကြီးဌာနက မည်သည့်ကဏ္ဍအတွက် စိစစ်ပေးရမည်ကို ရှင်းလင်းဖော်ပြပေးရန် လိုအပ်ပါသည်။

(င) ကုန်းတွင်းဆိပ်(Dry Port)အနေဖြင့်ဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံအနေဖြင့် ကုလသမဂ္ဂအာရှနှင့်ပစိဖိတ်ဒေသ စီးပွားရေးနှင့်လူမှုရေးကော်မရှင်(UNESCAP)က ကုန်းတွင်းဆိပ်များဆိုင်ရာအစိုးရများအကြား သဘောတူညီချက်(**Intergovermental Agreement on Dry Ports**)ကို (၇-၁၁-၂၀၁၃)ရက်နေ့တွင် ပါဝင်လက်မှတ်ရေးထိုးခဲ့ပြီးဖြစ်သဖြင့် ယင်းနေ့ရက်မှစ၍ စာချုပ်ဝင်နိုင်ငံ တစ်နိုင်ငံဖြစ်ခဲ့ပါသည်။ စာချုပ်ဝင်နိုင်ငံများအလိုက် အပြည်ပြည်ဆိုင်ရာ အရေးကြီးသော ကုန်းတွင်းဆိပ်များခေါင်းစဉ်အောက်၌ မြန်မာနိုင်ငံအတွင်းရှိ ဖြစ်နိုင်ခြေရှိသော ကုန်းတွင်းဆိပ်(၈)နေရာအား ရန်ကုန်၊ မန္တလေး၊ တမူး၊ မူဆယ်၊ မော်လမြိုင်၊ မုံရွာ၊ ပဲခူးနှင့် ပြည်မြို့ တို့တွင် ဆောင်ရွက်ရန် အဆိုပြုသတ်မှတ်ခဲ့ပါသည်။ အဆိုပါ(၈)နေရာအနက် ဦးစားပေးအဖြစ် ရန်ကုန်တိုင်းဒေသကြီး၌ ရွာသာကြီးမြေနေရာနှင့် မန္တလေးတိုင်းဒေသကြီး၌ မြစ်ငယ်မြေနေရာ(၂)ခုတို့အား ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ခွင့်ပြုချက်ဖြင့် တင်ဒါခေါ်ယူ၍ တင်ဒါအောင်မြင်သည့်ကုမ္ပဏီများနှင့် စာချုပ်ချုပ်ဆိုနိုင်ရေးကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် စာချုပ်ချုပ်ဆိုကာ လုပ်ငန်းများစတင်အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၆(၂၅၃၈)
ရက် စွဲ၊ ၂၀၁၆ခုနှစ်၊ အောက်တိုဘာလ ၂၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။
(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ခုနှစ်၊ မတ်လ(၂၄)ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၄၈/၂၀၁၆(၄၈၇-၇)
(၂) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ ဧပြီလ(၈) ရက်စွဲပါစာအမှတ်၊ ရထ-၂/၆၁(MIC)/၂၀၁၆(၈၉၀)
(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ ဧပြီလ (၂၇) ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၄၈/ ၂၀၁၆ (၅၈၈)
(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ (၅) ရက်စွဲပါ စာအမှတ်၊ မရက-၄/မ-၁၅၄၈/၂၀၁၆(၉၃၇)

၁။ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ ပလိပ်ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၂၀-ခ၊ အင်းလျားအနောက်ကွင်း၊ ဦးပိုင်အမှတ် ၃၇၊ ၃၈၊ ၆၀-က/၁၊ ၆၀-က/၂၊ ၆၀-ခ/၁၊ ၆၀-ဃ ရှိ မြေဧရိယာ(၁၄.၀၅)ဧကတွင် ကုန်းတွင်းဆိပ်(Dry Port)၊ ကုန်းတွင်းကွန်တိန်နာစခန်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Mandalay Dry Port Company Limited က မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ပြခြင်းနှင့်ပတ်သက်၍ သဘောထားတောင်းခံလာခြင်းအပေါ် ဤဝန်ကြီးဌာန၏ သဘောထားအား ရည်ညွှန်း(၂)ပါစာဖြင့် ပြန်ကြားခဲ့ပြီးဖြစ်ပါသည်။ ယင်းကိစ္စနှင့်ပတ်သက်၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးဆုံးဖြတ်ချက်အရ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့က ပြန်လည်ညှိနှိုင်းလာခြင်းအပေါ် ပြန်လည်စိစစ်ပြီး ခွင့်ပြုပေးနိုင်ခြင်း ရှိ-မရှိ ထပ်မံပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်း(၄)ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ မြန်မာနိုင်ငံအနေဖြင့် ကုန်းတွင်းဆိပ်များဆိုင်ရာ အစိုးရများအကြား သဘောတူညီချက်စာချုပ်ကို (၇-၁၁-၂၀၁၃)ရက်နေ့တွင် ပါဝင်လက်မှတ်ရေးထိုးခဲ့သဖြင့် ယင်းနေ့ရက်မှစ၍ စာချုပ်ဝင်နိုင်ငံ တစ်နိုင်ငံဖြစ်ခဲ့ပါသည်။ စာချုပ်ဝင်နိုင်ငံများအလိုက် အပြည်ပြည်ဆိုင်ရာအရေးကြီးသော ကုန်းတွင်းဆိပ်များခေါင်းစဉ်အောက်၌ မြန်မာနိုင်ငံအတွင်းရှိ ဖြစ်နိုင်ခြေရှိသော ကုန်းတွင်းဆိပ် (၈)နေရာအား ရန်ကုန်၊

ပဲခူး၊ တမူး၊ မူဆယ်၊ မော်လမြိုင်၊ မုံရွာ၊ ပဲခူးနှင့် ပြည်မြို့တို့တွင် ဆောင်ရွက်ရန် အဆိုပြု သတ်မှတ်ခဲ့ပါသည်။

၃။ ကုန်းတွင်းဆိပ်(၈)နေရာအနက် ရန်ကုန်ဒေသ၌ ရွာသာကြီးနှင့် မန္တလေးဒေသ၌ မြစ်ငယ်မြေနေရာတို့အား ရွေးချယ်ကာ ကုန်းတွင်းဆိပ်စီမံကိန်း(၂)ခု ဦးစားပေးအကောင်အထည်ဖော်ဆောင်ရွက်ရန် စီမံကိန်းဖြစ်မြောက်ရေးဦးစီးကော်မတီ၊ တင်ဒါခေါ်ယူရေးနှင့်စိစစ်ရေးကော်မတီများဖွဲ့စည်း၍ တင်ဒါ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ငန်းစဉ်အဆင့်များအလိုက် ပွင့်လင်းမြင်သာစွာ အဆင့်ဆင့်စိစစ် ရွေးချယ်မှုများပြုလုပ်ခဲ့ပါသည်။ တင်ဒါခေါ်ယူရေးနှင့် စိစစ်ရေးကော်မတီက ပြည်တွင်း/ ပြည်ပ ရင်းနှီးမြှုပ်နှံမှုများဖိတ်ခေါ်၍ နိုင်ငံတကာ တင်ဒါလုပ်ထုံးလုပ်နည်းများနှင့်အညီ စိစစ်ရွေးချယ်ပြီး စီမံကိန်းဖြစ်မြောက်ရေးဦးစီးကော်မတီမှ တင်ဒါအောင်မြင်ကြောင်း အတည်ပြုပြီးဖြစ်သည့် စင်ကာပူနိုင်ငံအခြေစိုက် Kerry Logistics Network Co.,Ltd နှင့် မြန်မာနိုင်ငံသားပိုင် Resources Group Logistics Co.,Ltd တို့အား BOT စနစ်ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်နိုင်ရေး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့ တင်ပြခဲ့ရာ ဆက်လက်ဆောင်ရွက်ရန်ခွင့်ပြုခဲ့သဖြင့် ဖော်ပြပါကုမ္ပဏီ(၂)ခုတို့အား (၁၀-၁-၂၀၁၆)ရက်နေ့တွင် တင်ဒါအောင်မြင်သူများအဖြစ် ကြေညာပေးခဲ့ပြီးဖြစ်ပါသည်။ အဆိုပါပုဂ္ဂလိကကုမ္ပဏီ(၂)ခုနှင့် မြန်မာ့မီးရထားတို့ ပူးပေါင်းကာ ကုန်းတွင်းဆိပ်များတည်ဆောက်၍ လုပ်ငန်းများအကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် သဘောတူစာချုပ်ချုပ်ဆိုနိုင်ရေးဆောင်ရွက်လျက်ရှိပြီး လုပ်ငန်းများ မကြာမီ စတင်အကောင်အထည်ဖော်တော့မည် ဖြစ်ပါသည်။

၄။ အဆိုပြုတင်ပြခဲ့သည့် Mandalay Dry Port Co.,Ltd သည် မြန်မာ့မီးရထားသို့ ယခင်ကာလများကတည်းက အောက်ပါအတိုင်းဆက်သွယ်ဆောင်ရွက်ခဲ့မှုများရှိခဲ့ကြောင်းကိုလည်း ဖော်ပြပြန်ကြားခဲ့ပြီးဖြစ်ပါသည်-

(က) EFR Forwarding and General Service Co.,Ltd. အမည်ဖြင့် (၄.၁၀.၂၀၁၀) ရက်စွဲပါစာဖြင့် ရန်ကုန်-မန္တလေးလမ်းပိုင်းတွင် မြန်မာ့မီးရထားပိုင် ကုန်သေတ္တာတင်ရထားတွဲများအား ငှားရမ်းသုံးစွဲခွင့်နှင့် မြို့ဟောင်းကုန်လှောင်ရုံဝင်းအား Dry Port အဖြစ် BOT စနစ်ဖြင့် ငှားရမ်းသုံးစွဲခွင့်ပြုရန် အဆိုပြုတင်ပြခဲ့ခြင်း၊

(ခ) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် EFR Co.,Ltd. တို့အကျိုးတူပူးပေါင်း၍ မြန်မာ့မီးရထား၏ စက်ခေါင်းနှင့် တွဲများအသုံးပြု၍ ကွန်တိန်နာဖြင့် ကုန်ပစ္စည်းသယ်ယူပို့ဆောင်ခြင်းလုပ်ငန်းအား ဆောင်ရွက်လိုကြောင်း (၃.၂.၂၀၁၂) ရက်နေ့က မြန်မာ့မီးရထားမှ တာဝန်ရှိသူများနှင့် တွေ့ဆုံညှိနှိုင်းဆွေးနွေးမှုပြုခဲ့ခြင်း၊

(ဂ) EFR Co.,Ltd. သည် (၁၄.၉.၂၀၁၂)ရက်စွဲပါစာဖြင့် ကုမ္ပဏီအနေဖြင့် ဂျပန်နိုင်ငံမှ ဝယ်ယူတင်သွင်းထားပြီးဖြစ်သော ရထားစက်ခေါင်းဟောင်းနှင့် တွဲဟောင်းများအားအသုံးပြုပြီး မြန်မာ့မီးရထားနှင့်ပူးပေါင်း၍ PPP လုပ်ငန်းအဖြစ် ကုန်သေတ္တာတင်ရထားပြေးဆွဲရေးလုပ်ငန်း ဆောင်ရွက်လိုကြောင်းတင်ပြခဲ့ရာ ၎င်းတို့ ဝယ်ယူထားသော စက်ခေါင်းနှင့် တွဲများသည် လက်ရှိ မြန်မာ့မီးရထားလမ်းပိုင်းများပေါ်တွင် ချတ်မောင်းပြေးဆွဲရန် ကန့်သတ်ချက်များစွာရှိသဖြင့် နိုင်ငံတော်အနေဖြင့် ရထားပြေးဆွဲရေး

လုပ်ငန်းများတွင် ပုဂ္ဂလိက ပူးပေါင်းပါဝင်ဆောင်ရွက်ခွင့်ကို မူဝါဒအရ ခွင့်ပြုပါက ပွင့်လင်းမြင်သာစွာဖြင့် Open Tender စနစ်ဖြင့်သာ ယှဉ်ပြိုင် ဆောင်ရွက်ခွင့် ပြုမည်ဖြစ်ကြောင်း ကုမ္ပဏီအား အကြောင်းပြန်ကြားခဲ့ခြင်း၊

(ဃ) EFR Co.,Ltd. သည် (၂၄.၁၂.၂၀၁၂)ရက်စွဲပါစာဖြင့် ရန်ကုန်၌ ဝါးတန်းကုန်ရုံနှင့် မန္တလေး၌ မြို့ဟောင်း/ပလိပ်ကုန်ရုံတို့အား BOT စနစ်ဖြင့် ငှားရမ်း၍ ကုန်သေတ္တာတင် ရထားပြေးဆွဲခြင်း၊ ယာယီကုန်သေတ္တာသိုလှောင်ရုံများ တည်ဆောက်အသုံးပြုခြင်း ပြုလုပ်လိုကြောင်း အဆိုပြုတင်ပြခဲ့ရာ Container Service by Rail အား မြန်မာ့မီးရထားနှင့် ပူးပေါင်းဆောင်ရွက်နိုင်ရေး ရင်းနှီးမြှုပ်နှံဆောင်ရွက်လိုသူများအား ကမ်းလှမ်းခြင်း၊ ဆွေးနွေးခြင်းများ ပြုလုပ်ပြီး Tender ဖိတ်ခေါ်ချိန်တွင် ဝင်ရောက် ယှဉ်ပြိုင်ဆောင်ရွက်နိုင်ရေး အသိပေးခဲ့ခြင်း၊

၅။ (၁၀-၅-၂၀၁၃)ရက်နေ့နှင့် (၁၁-၅-၂၀၁၃)ရက်နေ့ထုတ် နိုင်ငံပိုင်သတင်းစာများမှ ကုန်သေတ္တာ ရထားပြေးဆွဲနိုင်မည့်အစီအစဉ်အားဖော်ပြ၍ ကုန်သေတ္တာရထားပြေးဆွဲနိုင်ရေးဆက်သွယ်ဆောင်ရွက် နိုင်ကြောင်း ကြေညာခဲ့သော်လည်း EFR Co.,Ltd. အနေဖြင့် မြန်မာ့မီးရထားနှင့် ဆက်သွယ် ဆောင်ရွက်မှုမရှိခဲ့ကြောင်း စိစစ်တွေ့ရှိရပါသည်။

၆။ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီး သစ်ပုံဆိပ် မြေနေရာအား Dry Port ကုန်းတွင်းကွန်တိန်နာစခန်းတည်ဆောက်ရန် လျာထားမှုအပေါ် မန္တလေး တိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၂၄-၇-၂၀၁၄)ရက်စွဲပါစာဖြင့် သဘောထားတောင်းခံခဲ့ရာ Open Tender ဖိတ်ခေါ်၍ ပွင့်လင်းမြင်သာသော စနစ်ဖြင့် အကောင်အထည်ဖော်ရန် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြထားပြီးဖြစ်ကြောင်း၊ EFR Co.,Ltd. မှ တာဝန်ရှိသူများအားလည်း တွေ့ဆုံပြောကြားထားပြီး ဖြစ်ပါကြောင်းနှင့် ပလိပ်သစ်ပုံဆိပ်နေရာအား ယာယီ အသုံးပြုလိုမှုနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိသော်လည်း အဆိုပါပလိပ်သစ်ပုံဆိပ်နေရာသည် မန္တလေးဒေသ၊ မြစ်ငယ် Dry Port စီမံကိန်း နေရာမှ ထပ်တိုးချဲ့ရန်နေရာအဖြစ် Action Plan တွင် ထည့်သွင်းလျာထားပြီးဖြစ်ကြောင်းကို သဘောထား ပြန်ကြားထားပြီးဖြစ်ပါသည်။

၇။ ဝန်ကြီးဌာန၊ တင်ဒါခေါ်ယူရေးနှင့် စိစစ်ရေးကော်မတီ၏ လမ်းညွှန်ချက်အရ မြန်မာ့မီးရထားက (၂၂-၈-၂၀၁၄)ရက်နေ့ထုတ် နိုင်ငံပိုင်သတင်းစာများတွင် ကုန်းတွင်းဆိပ်များတည်ဆောက်၍ လုပ်ငန်းများ ဆောင်ရွက်နိုင်ရေးအတွက် ရင်းနှီးမြှုပ်နှံလိုသူများ၏ စိတ်ပါဝင်စားမှုဖော်ပြချက် (EOI) များတင်ပြရန် ဖိတ်ကြားမှုစတင်ခဲ့သည့်အချိန်မှစ၍ တင်ဒါလုပ်ငန်းစဉ်အဆင့်ဆင့်အား ဆောင်ရွက်ခဲ့ရာတွင် အဆိုပါ EFR Co.,Ltd. အနေဖြင့် ပြည်ထောင်စုအဆင့် တင်ဒါ Project အား စိတ်ပါဝင်စားစွာ ဝင်ရောက် အဆိုပြုယှဉ်ပြိုင်ဆောင်ရွက်ခဲ့ခြင်းမရှိဘဲ ယင်းတို့၏ အစီအစဉ်ဖြင့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ထံ သီးခြားအဆိုပြု လျှောက်ထားခဲ့ကြောင်း တွေ့ရှိရပါသည်။

၈။ ဖော်ပြပါအချက်များအပြင် အောက်ဖော်ပြပါအချက်များအရ Mandalay Dry Port Company Limitedအား ကုန်းတွင်းဆိပ်(Dry Port)၊ ကုန်းတွင်းကွန်တိန်နာစခန်း ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန် ခွင့်မပြုသင့်ကြောင်း ပြန်ကြားခဲ့ပြီးလည်းဖြစ်ပါသည်-

(က) အာရှနှင့်ပစိဖိတ်ဒေသ စီးပွားရေးနှင့်လူမှုရေးကော်မရှင်(UNESCAP) ၏ စီစဉ်မှုဖြင့် ကုန်းတွင်းဆိပ်များဆိုင်ရာ အစိုးရများအကြား သဘောတူညီချက်အရ စာချုပ်ဝင်နိုင်ငံ တစ်နိုင်ငံဖြစ်သော မြန်မာနိုင်ငံအနေဖြင့် ဖြစ်နိုင်ခြေရှိသော ကုန်းတွင်းဆိပ်(၈)နေရာအနက် ရန်ကုန်တိုင်းဒေသကြီး၌ ရွာသာကြီးဘူတာအနီးရှိ မြေနေရာနှင့် မန္တလေးတိုင်း ဒေသကြီး၌ မြစ်ငယ်ဘူတာအနီးရှိမြေနေရာတို့အား ရွေးချယ်၍ ကုန်းတွင်းဆိပ် စီမံကိန်း(၂)ခုကို ဦးစားပေးအကောင်အထည်ဖော်ဆောင်ရွက်ရန် စီမံချက် ချမှတ် ဆောင်ရွက်လျက်ရှိခြင်း၊

(ခ) ဝန်ကြီးဌာနက စီမံကြီးကြပ်ဆောင်ရွက်ခဲ့ပြီး နိုင်ငံတကာ တင်ဒါလုပ်ထုံးလုပ်နည်း များနှင့်အညီ စိစစ်ရွေးချယ်ခဲ့သော တင်ဒါအောင်မြင်သည့် ကုမ္ပဏီ(၂)ခုတို့အား BOT စနစ်ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရယူခြင်းလုပ်ငန်းစဉ်များဆက်လက်ဆောင်ရွက်ရန် ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ(၇)ရက်စွဲပါစာအမှတ်၊ ၇၅/၃၂၅-BOT ၂-၁၅/အဖရ(၂၀၁၆)ဖြင့် ခွင့်ပြုပြီးဖြစ်ခြင်း၊

(ဂ) Mandalay Dry Port Company Limited သည် ပြည်ထောင်စုအဆင့် ပွင့်လင်း မြင်သာစွာ နိုင်ငံတကာ လုပ်ထုံးလုပ်နည်းများနှင့်အညီ Open Tender အဖြစ် ဖိတ်ခေါ်ခဲ့သော တင်ဒါလုပ်ငန်းစဉ်များတွင် ဝင်ရောက်ယှဉ်ပြိုင်ခဲ့ခြင်းမရှိသည့်အပြင် ၎င်းကုမ္ပဏီအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် မန္တလေးတိုင်းဒေသကြီး အတွင်း တစ်နေရာတည်း၌ သီးခြား Dry Port စီမံကိန်း နောက်ထပ်တစ်ခု ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက Conflict of Interest ဖြစ်ပေါ်ပြီး ပြည်ထောင်စုအဆင့် တင်ဒါလုပ်ငန်းများကို ထိခိုက်စေနိုင်ခြင်း၊

(ဃ) နောင်တွင်လည်း ပြည်တွင်း/နိုင်ငံတကာ ပုဂ္ဂလိကကုမ္ပဏီ၊ အဖွဲ့အစည်းနှင့် လုပ်ငန်းရှင် များက အစိုးရဌာနများနှင့် အကျိုးတူပူးပေါင်း၍ လုပ်ငန်းစီမံကိန်းများ လုပ်ကိုင် ဆောင်ရွက်ရန် ယုံကြည်မှုများလျော့နည်းသွားစေနိုင်သည့် အခက်အခဲများ ရင်ဆိုင် ကြုံတွေ့ရနိုင်ခြင်း၊

(င) အစိုးရဌာန၊ အဖွဲ့အစည်းများအား သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများနှင့် စီးပွားရေးလုပ်ငန်းများ လုပ်ကိုင်ခွင့်ပြုနိုင်ရေးအတွက် လိုက်နာဆောင်ရွက်ရမည့် တင်ဒါစည်းကမ်းချက်များကို နိုင်ငံတော်သမ္မတရုံးက ၂၀၁၃ ခုနှစ်၊ ဧပြီလ(၅)ရက်စွဲပါ ညွှန်ကြားချက်အမှတ်(၁/၂၀၁၃)ဖြင့် ညွှန်ကြားထားပြီးဖြစ်ရာ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် လျှောက်ထားလာသည့် Mandalay Dry Port Company Limited ၏ အဆိုပြုတင်ပြချက်သည် နိုင်ငံတော်သမ္မတရုံး၏ လမ်းညွှန်ချက်အတိုင်း ယာဉ်ရထားပို့ဆောင်ရေးဝန်ကြီးဌာနက Open Tender စနစ်ပြုလုပ်၍ တင်ဒါလုပ်ငန်းစဉ်များနှင့်အညီ ပွင့်လင်းမြင်သာစွာ တင်ဒါခေါ်ယူစဉ်က ယှဉ်ပြိုင် ဆောင်ရွက်ခဲ့မှုမရှိဘဲ အဆိုပါ ကုမ္ပဏီအား အထူးအခွင့်အရေးဖြင့် ခွင့်ပြုလုပ်ကိုင်

ဖေမည်ဆိုပါက အလားတူ လုပ်ငန်း လုပ်ကိုင်ခွင့်ရရန် စိတ်ပါဝင်စားပြီး နည်းပညာ အရင်းအမြစ်နှင့် ရင်းနှီးမြှုပ်နှံမှု စွမ်းရည်ရှိသော အခြားနိုင်ငံသား ပုဂ္ဂလိကလုပ်ငန်းရှင်၊ ကုမ္ပဏီနှင့် အဖွဲ့အစည်း များအနေဖြင့် ပွင့်လင်းမြင်သာစွာ ဆောင်ရွက်ခဲ့မှုမရှိခြင်းအပေါ် နောင်တွင် ထောက်ပြကန့်ကွက်မှုများ ဖြစ်ပေါ်လာနိုင်ခြင်း၊

( စ ) ဝန်ကြီးဌာနက ကြီးကြပ်အကောင်အထည်ဖော်ဆောင်ရွက်ခဲ့သော ပြည်ထောင်စုအဆင့် ကုန်းတွင်းဆိပ်တည်ဆောက်ရေးတင်ဒါစီမံကိန်းကို များစွာထိခိုက်စေနိုင်ခြင်း။

၉။ ၎င်းအပြင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်း(၃)ပါစာဖြင့် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးသို့ သဘောထားပြန်ကြားသည့်စာတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ မိတ္တူပေးပို့ခဲ့မှုအပေါ် အဆိုပါဝန်ကြီးဌာနမှ ပလိပ်သစ်ဆိပ်မြေနေရာအား ပြန်လည် အသုံးပြုခွင့်ရရှိရေး ဆောင်ရွက်ခွင့်ပြုပါရန် နိုင်ငံတော်သမ္မတရုံးသို့ တင်ပြထားကြောင်း သိရှိရပါသည်။

၁၀။ သို့ဖြစ်ပါ၍ Mandalay Dry Port Company Limited က မန္တလေးတိုင်းဒေသကြီးအစိုးရ အဖွဲ့မှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ပြသည့် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိ ပလိပ်ကျေးရွာအုပ်စုရှိ မြေဧရိယာ(၁၄.၀၅)ဧကတွင် ကုန်းတွင်းဆိပ်(Dry Port)၊ ကုန်းတွင်းကွန်တိန်နာစခန်းဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ကိစ္စနှင့်ပတ်သက်၍ မြန်မာ့မီးရထားမှ စတင် အကောင် အထည်ဖော်ဆောင်ရွက်လျက်ရှိသည့် ကုန်းတွင်းဆိပ်(၂)ခုမှာ ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့ တင်ပြ ခွင့်ပြုချက်အရ စတင်ဆောင်ရွက်ခဲ့သော လုပ်ငန်းကိစ္စရပ်ဖြစ်ခြင်းကြောင့်လည်းကောင်း၊ ပြည်တွင်း/ ပြည်ပရင်းနှီးမြှုပ်နှံမှုများဖြင့် ဆောင်ရွက်ရန်အတွက် နိုင်ငံတကာတင်ဒါစနစ်နှင့်အညီ ဆောင်ရွက် ခဲ့ခြင်းကြောင့်လည်းကောင်း၊ ကုန်းတွင်းဆိပ်လုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် သက်ဆိုင်ရာဌာနများ၏ သဘောထားများ တောင်းခံဆောင်ရွက်နေပြီဖြစ်ခြင်းကြောင့်လည်းကောင်း ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ခွင့်ပြုပေးရန်မသင့်ပါကြောင်း သဘောထားထပ်မံ ပြန်ကြားအပ်ပါသည်။

(လက်မှတ်)

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူ

- မြန်မာ့မီးရထား

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရထားပို့ဆောင်ရေးဝန်ကြီးဌာန

**ဝန်ကြီးရုံး**

စာအမှတ်၊ ၁ / ၉ ၃ / ၂ ၀ ၁ ၄ ( Fax: ၂၅၆၆)

ရက် စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၃၀ ရက်

သို့

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၂၄)ရက်စွဲပါ စာအမှတ်၊ ၂/၃-၅/၂၂ ဦး ၆(၁၉၄)

၁။ ကုလသမဂ္ဂအာရှနှင့် ပစိဖိတ်ဒေသဆိုင်ရာစီးပွားရေးနှင့် လူမှုရေးကော်မရှင် (UNESCAP)၏ ကုန်းတွင်းဆိပ်များဆိုင်ရာ အစိုးရများအကြား သဘောတူစာချုပ်အား (၇-၁၁-၂၀၁၃)ရက်နေ့တွင် မိမိနိုင်ငံအနေဖြင့် ပါဝင်လက်မှတ်ရေးထိုးပြီးဖြစ်ရာ ဖြစ်နိုင်ခြေရှိသည့် ကုန်းတွင်းဆိပ်(၈)နေရာ (မော်လမြိုင်၊ ပဲခူး၊ ရန်ကုန်၊ မန္တလေး၊ မူဆယ်၊ ပြည်၊ မုံရွာ၊ တမူး)တို့ အနက် ရန်ကုန်တိုင်းဒေသကြီး ရွာသာကြီးဘူတာအနီးရှိ မြန်မာ့မီးရထားပိုင် စီမံကိန်းမြေ (၁၀၀/၁၅၀)ဧကခန့်တွင်လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီး မြစ်ငယ်ဘူတာအနီးရှိ မြန်မာ့မီးရထားပိုင်မြေ (၁၁၁)ဧကခန့်တွင်လည်းကောင်း ကုန်းတွင်းဆိပ်(၂)နေရာသတ်မှတ်ကာ ပြည်တွင်း/ပြည်ပ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းရှင်များအား ဖိတ်ခေါ်လျက် ကုန်းတွင်းဆိပ်စီမံကိန်း(၂)ခု အကောင်အထည်ဖော်ရန် (၁၇-၇-၂၀၁၄)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ (၂၄/၂၀၁၄)နှင့် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ်(၁၅/၂၀၁၄)တို့သို့ တင်ပြထားပြီးဖြစ်ပါသည်။

၂။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့က အဆိုပြုခဲ့သော EFR Group Of Companies (Public) Limited က ကုန်တွဲ(၁၅)တွဲဖြင့် Trial Shipment စမ်းသပ်ပြေးဆွဲလိုမှု၊ ပလိပ်မြေနေရာ ယာယီအသုံးပြုလိုမှုတို့နှင့် ပတ်သက်၍ အဆိုပါကုမ္ပဏီမှ ရထားပို့ဆောင်ရေးဝန်ကြီးဌာန ပြည်ထောင်စု ဝန်ကြီးအား (၂၅-၂-၂၀၁၄)ရက်နေ့၌ လာရောက်တွေ့ဆုံခဲ့ပြီး စိတ်ဝင်စားကြောင်းတင်ပြခဲ့ရာ ပြည်ထောင်စု ဝန်ကြီးက ဆောလျင်စွာ လာရောက်တင်ပြဆွေးနွေးသည့် အဖွဲ့အစည်းအား လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုပေးခြင်း၊ တိုက်ရိုက်ဆွေးနွေး၍ ခွင့်ပြုပေးခြင်းစနစ်ကို ကျင့်သုံးခြင်းမပြုဘဲ Open Tender ဖိတ်ခေါ်၍ ပွင့်လင်းမြင်သာသောစနစ်ဖြင့်သာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ပြောကြားခဲ့ပြီးဖြစ်ပါသည်။

၃။ ရည်ညွှန်းစာနှင့်ပတ်သက်၍ ပလိပ်သစ်ပုံဆိပ်မြေနေရာတွင် ယာယီအသုံးပြုလိုမှုနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိပါသော်လည်း ရထားပို့ဆောင်ရေးဝန်ကြီးဌာနအနေဖြင့် ပထမဦးစားပေးဆောင်ရွက်မည့်

မြစ်ငယ်(Dry Port) နေရာ၏ ထပ်မံတိုးချဲ့ဆောင်ရွက်မည့် နေရာအဖြစ် ပလိပ်သစ်ပုံဆိပ်နေရာအား Action Plan တွင် ထည့်သွင်းလျာထားပြီးဖြစ်သောကြောင့် ကုမ္ပဏီအနေဖြင့် မြန်မာ့ မီးရထားနှင့် အသေးစိတ်ညှိနှိုင်းဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ဝင်းနောင် - ရုံးအဖွဲ့မှူး )

မိတ္တူ

- မြန်မာ့မီးရထား




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၁၉၆/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၄ ရက်

သို့

M4-453
14.12.17

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. မှ ထောက်ပံ့ပို့ဆောင်ရေးနှင့်ဖြန့်ချီရေးစင်တာလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၁၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ ခ-၀၁၀/ ၂၀၁၇(၅၃၃)

(၂) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ မြန်မာ့သစ်လုပ်ငန်း၊ သစ်ထုတ်ရေးဌာန၏ ၈.၁၁.၂၀၁၇ ရက်စွဲပါစာမှတ် ၁၀၆၆၅/ သထရ-စရ(ဂ)၂၁

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Ever Flow River Logistics & Distribution Center (Mandalay) Co.,Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပုလိပ်ဘုတာအနီးရှိ ၁၄.၀၅ဧက (၅၆,၈၅၈.၃၃ စတုရန်းမီတာ) ကို BOT စနစ်ဖြင့်ငှားရမ်း၍ ထောက်ပံ့ပို့ဆောင်ရေးနှင့်ဖြန့်ချီရေးစင်တာလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်လိုကြောင်းတင်ပြလာခြင်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ၄၉ အရ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက်စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁၈) လ ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရ၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာနနှင့် Mandalay Dry Port Co., Ltd. တို့အကြား ကွန်တိန်နာဆိပ်တည်ဆောက်ပြီး BOT စနစ်ဖြင့်လုပ်ကိုင်ရန် သဘောတူစာချုပ်အားရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ပြီးဖြစ်သည့် ပြင်ဆင်ချက် သဘောတူစာချုပ် ဖော်ပြပါရှိပါကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်နေရာမှာ ယခင်က မြန်မာ့သစ်လုပ်ငန်းပိုင် ပလိပ်သစ်ဆိပ်မြေ (သစ်ကွင်းဧရိယာ) ၁၉.၀၅ ဧက ဖြစ်ပြီး အဆိုပါမြေမှ ၁၄.၀၅ ဧကကို မြန်မာ့သစ်လုပ်ငန်း၊ မန္တလေးတိုင်းဒေသကြီးမှလွှဲပြောင်းရယူကာ လုပ်ငန်းများဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း ရည်ညွှန်း (၂) ပါစာအရ စီးပွားရေးရာကော်မတီမှ မြေလွှဲပြောင်းရယူခြင်းအတွက် သဘောထားမှတ်ချက်မကျသေးသော်လည်း သစ်ဆိပ်လက်ကျန်သစ်များအား ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလအတွင်း အပြီးရွှေ့ပြောင်းဆောင်ရွက်သွားရန်နှင့် စီမံချက်အတိုင်းဆောင်ရွက်သွားရန် မြန်မာ့သစ်လုပ်ငန်းမှပေးပို့လာသည့် အကြောင်းကြားစာ ဖော်ပြပါကြောင်း၊

(င) အဆိုပြုလုပ်ငန်းအား မြေ ၁၄.၀၅ ဧက (၅၆,၈၅၈.၃၃ စတုရန်းမီတာ) တွင် Main Gate, Security House, Weight Bridge, Generator House, Office Car Parking, Main Office, Water Tank, Fuel Tank, Check Gate, X-Ray, Warehouse & C.F.S, Container Yard နှင့် Track Terminal Yard စသည့် အဆောက်အဦများဆောက်လုပ်ကာလုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Ever Flow River Logistics & Distribution Center (Mandalay) Co.,Ltd မှ ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချီရေးစင်တာလုပ်ငန်း ဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှထွက်ရှိလာမည့် မြေသားအမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ ဆူညံသံများနှင့် စွန့်ပစ်စက်မောင်းဆီ၊ ချောဆီများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) ကုန်တွင်းဆိပ် (Dry Port) လုပ်ငန်းများ ဆောင်ရွက်ချိန်တွင် ကွန်တင်နာယာဉ်များမှ ထွက်ရှိလာမည့် အခိုးအငွေ့များကြောင့် လေထုညစ်ညမ်းခြင်း၊

(ဃ) ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်းကြောင့် ယာဉ်ကြောပိတ်ဆို့မှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(င) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေမှာ မြန်မာ့သစ်လုပ်ငန်းမှ လွှဲပြောင်းပေးရန် ပြင်ဆင်နေပြီဖြစ်သော်လည်း စီးပွားရေးရာကော်မတီမှ သဘောထားမှတ်ချက် မရရှိသေးသည့်အတွက်ကြိုတင်ဆောင်ရွက်မည်ဆိုပါ က မြေပိုင်ဆိုင်မှုဆိုင်ရာ အငြင်းပွားမှုများဖြစ်ပေါ်လာနိုင်ခြင်း၊

(စ) အဆိုပြုလုပ်ငန်းမှာ ဧရာဝတီမြစ်အနီးတည်ရှိသည့်အတွက် စနစ်တကျဆန်းစစ်ခြင်းမရှိဘဲ ဆောင်ရွက်ပါက စွန့်ပစ်ရေဆိုးများကြောင့် မြစ်ချောင်းများ ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်းနှင့် ရေကြီး၊ ရေလျှံခြင်းကဲ့သို့သော သဘာဝဘေးအန္တရာယ်များနှင့် ကြုံတွေ့ရနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Ever Flow River Logistics & Distribution Center (Mandalay) Co., Ltd. မှ ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချီရေးစင်တာလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦး

စီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (**Environmental Management Plan-EMP**) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ






Mq-1202
2.1.18

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**
**မန္တလေးမြို့**

စာအမှတ်၊ ၂/၃ - ၅/၂၂ ဦး ၆ (၈၈၈ )
ရက်စွဲ၊၂၀၁၇ခုနှစ်၊ ဒီဇင်ဘာလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Ever Flower River Logistics & Distribution Center (Mandalay) Co.,Ltd မှ ထောက်ပံ့ပို့ဆောင်ရေးနှင့် ဖြန့်ချိရေးစင်တာလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၁၂-၂၀၁၇ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ ခ - ၀၁၀ / ၂၀၁၇ (၅၈၅)

၁။ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဥ့်ကိုင်မြို့နယ်၊ ပုလိပ်ဘူတာအ နီးရှိ ၁၄.၁၅ ဧကကို Ever Flower River Logistics & Distribution Center (Mandalay) Co.,Ltd မှ ကုန်းတွင်းဆိပ်ကမ်းကွန်တိန်နာစီမံကိန်းအား B.O.T စနစ်ဖြင့်လုပ်ငန်းများ ဆက်လက်ဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြခဲ့မှုနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စီးပွားရေးရာကော်မတီ၏ဆုံးဖြတ်ချက်အား ဆောလျင်စွာတင်ပြပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ **"သက်ဆိုင်ရာဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက်များအား ညှိနှိုင်းဆောင်ရွက်သွားရန်"** ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ၏ ၁၈-၁၂-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စီးပွားကော်မတီ / အစိုးရအဖွဲ့(၁၃၃/၂၀၁၇)ဖြင့် အကြောင်းကြားခဲ့ပြီး သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနမှလည်း ၉-၁၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ (သစ်တော) ၃(၂) / ၀၃(ခ) (၃၆၃၆/၂၀၁၇) ဖြင့် **"လွှဲပြောင်းရန်ဆောင်ရွက်ပါ"**ဟု အကြောင်းကြားထားရှိခဲ့ပြီးဖြစ်ပါ၍ လက်ရှိမြေပြင်တွင်လည်း မြန်မာ့သစ်လုပ်ငန်းထံမှ တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အဖွဲ့ဖြင့်လွှဲပြောင်း / လက်ခံဆောင်ရွက်လျက်ရှိ ပါသည်။

၃။ အဆိုပါ ကုန်းတွင်းဆိပ်ကမ်းကွန်တိန်နာ စီမံကိန်းနှင့်ပတ်သက်၍ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် Ever Flower River Logistics & Distribution Center (Mandalay) Co.,Ltd တို့အကြား ၉ - ၈ - ၂၀၁၇ ရက်တွင် ချုပ်ဆိုခဲ့သည့်စာချုပ်အရ လုပ်ငန်းများလျင်မြန်စွာ အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်လျက်ရှိပါသည်။

၄။ သို့ပါ၍ စီမံကိန်းလုပ်ငန်းများ လျှင်မြန်စွာအကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရေး လိုအပ်သလိုဆောင်ရွက်ပေးနိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ပူးတွဲ- ( ၂ )ရွက်

ဝန်ကြီးချုပ်( ကိုယ်စား )
(စိုင်းသော်ဝင်း၊ အတွင်းရေးမှူး)

မိတ္တူကို

Ever Flower River Logistics & Distribution Center (Mandalay) Co.,Ltd
လှည့်လည်စာတွဲ
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
မြန်မာ့သစ်လုပ်ငန်း ၊ မန္တလေးတိုင်းဒေသကြီး
စာအမှတ်၊ ၃၃၀၀ / စ၇(က)၅၄
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၄ ရက်

သို့

ကိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးတိုင်းဒေသကြီး

အကြောင်းအရာ။ ပလိပ်သစ်ဆိပ်မြေနေရာအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ လွှဲအပ်/လက်ခံပြုလုပ်နိုင်ရန်အတွက်လက်ခံမည့်အဖွဲ့အားဖွဲ့စည်းပေးပါရန်တင်ပြခြင်း

ရည်ညွှန်းချက်။ မြန်မာ့သစ်လုပ်ငန်း၊ မန္တလေးတိုင်းဒေသကြီးရုံး၏ ၁၄.၁၂.၂၀၁၇ ရက်စွဲပါ စာအမှတ်- ၃၂၉၉ / စရ (က) ၅၄

မြန်မာ့သစ်လုပ်ငန်း ၊ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးဖောင်ဖွဲ့ရေးဒေသ၊ ပလိပ်သစ်ဆိပ်မြေအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် မြန်မာ့သစ်လုပ်ငန်းတို့ လွှဲအပ်/လက်ခံပြုလုပ်ရန်အတွက် မြန်မာ့သစ်လုပ်ငန်းမှ ရည်ညွှန်းပါစာဖြင့် အဖွဲ့ဖွဲ့စည်းပြီးဖြစ်ပါသဖြင့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ လက်ခံမည့် အဖွဲ့အား ဖွဲ့စည်းပေးပါရန် တင်ပြအပ်ပါသည်။

( အောင်မြင့်ဌေး-၂ )
ဒုတိယအထွေထွေမန်နေဂျာ

မိတ္တူကို
- အထွေထွေမန်နေဂျာ(သစ်ထုတ်ရေး)
- လက်ထောက်အထွေထွေမန်နေဂျာ(ဖောင်ဖွဲ့ရေး)၊ မန္တလေးဖောင်ဖွဲ့ရေးဒေသ
- ပလိပ်သစ်ဆိပ်ဖိုင်
- မျှောစာတွဲ
- ရုံးလက်ခံ

eng/1020

ဧင်ခင်ဘာရသည့်နေ့ ၈.၁၁.၁၇ အချိန် ၁၁:၃၀



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အမှတ် ၁၆ ၅၇၄

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် (သစ်တော) ၃(၂)/၀၃(ခ)(၄၆၃၆ /၂၀၁၇)

ရက်စွဲ ၂၀၁၇ ခုနှစ် ၊ နိုဝင်ဘာလ ၉ ရက်

အကြောင်းအရာ။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် ပလိပ်သစ်ဆိပ်မြေဧရိယာ ၁၄.၀၅ ဧကရှိ မြေပေါ်တွင် ကုန်းတွင်းဆိပ်ကွန်တိန်နာစခန်းစီမံကိန်းအား B.O.T စနစ်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်မည့်ကိစ္စ

ရည်ညွှန်းချက်။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏၃၁-၁၀-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ၂/၃ -၅/ ၂၂ ဦး ၆ (၆၁၇)

ကွန်တိန်နာစခန်းတည်ဆောက်မည့် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်ဘူတာအနီးရှိမြေဧရိယာ (၁၄.၀၅) ဧကအား လွှဲပြောင်းပေးခြင်းမရှိသေးသည့်အတွက် လွှဲပြောင်းရရှိရေးလိုအပ်သလိုဆောင်ရွက်ပေးနိုင်ပါရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့တင်ပြသည့် ရည်ညွှန်းပါစာပေါ်တွင် ပြည်ထောင်စုဝန်ကြီး၏ အောက်ပါမိန့်မှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်-

- လွှဲပြောင်းရန် ဆောင်ရွက်ပါ။

၉/၁၁/၂၀၁၇

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ဝင်းမော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာသစ်လုပ်ငန်း

10:\17 KW\DMMT\11\Mandalay- 14.05 .docx